

# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်




## ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ - ......၈၉၀................... /၂၀ ၁၃ ။ ၂၀ ၁၃ ခုနှစ်၊ မတ် လ ၁၃ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏ အမည် ဒေါက်တာချိုဝင်းမော်

(ခ) အဘ အမည် ဦးမောင်မောင်ရီ

(ဂ) နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်) ၁၀၈၆၆၉

(ဃ) နေရပ်လိပ်စာ ရုံးအမှတ်(၃၇)၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ နေပြည်တော်။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့ အစည်း Sagaing June Pharmaceutical & Foodstuff Industry Ltd.

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား ရေညှိရေမှော်ဆက်စပ်ပစ္စည်းအမျိုးမျိုး၊ ဆေးနှင့်ဆေးပစ္စည်းများ၊ အိမ်သုံးဆေးဝါးနှင့် အခြားလူသုံးဆေးဝါးအမျိုးမျိုး၊ တိုင်းရင်းဆေးဝါးမျိုးမျိုး၊ လူသုံးကုန်၊ အလှကုန်၊အဖျော်ယမကာနှင့်စားသောက်ကုန်ပစ္စည်း၊ တိရိစ္ဆာန်အစားအစာနှင့်မြေဩဇာထုတ်လုပ်ခြင်းအတွက် ကုန်ကြမ်းအမျိုးမျိုး၊ ဇီဝလောင်စာအမျိုးမျိုးထုတ်လုပ်ခြင်း လုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ (များ) စက်ရုံ–အမှတ်(၃)ဆေးဝါးစက်ရုံ(စစ်ကိုင်း)၊ချောင်းပေါက်ကျေးရွာအနီး၊ စစ်ကိုင်းမြို့နယ်၊ စစ်ကိုင်းတိုင်းဒေသကြီး။ စခန်း– ရေခါးစခန်း၊ ရေခါးကျေးရွာအနီး၊ စစ်ကိုင်းမြို့နယ်။ တွင်းတောင်စခန်း၊ ဘုတလင်မြို့နယ်။ တွင်းမစခန်း၊ ကနီမြို့နယ်။ တောင်ပျောက်စခန်း၊ ကနီမြို့နယ်။

(ဇ) ပြည်တွင်းရင်းနှီးမြှုပ်နှံမှုပမာဏ (ကျပ်) ၈၄၃၅.၀၀ (သန်း) (အမေရိကန်ဒေါ်လာ ၁.၁၁၅ သန်း အပါအဝင် စုစုပေါင်း ကျပ် ရှစ်ထောင်လေးရာသုံးဆယ့်ငါးသန်း တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၁ / ၂၀၁၃ (မနသ)
၂၀၁၃ ခုနှစ် မတ်လ ၁၄ ရက်

၁။ စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း နှင့် ဇွန်ဆေးဝါး ထုတ်လုပ်ရေး လီမိတက် (June Pharmaceutical Ltd.) တို့သည် စစ်ကိုင်းဇွန် ဆေးဝါးနှင့် စားသောက်ကုန် ကုက်လုပ်ရေး လီမိတက် (Sagaing June Pharmaceutical and Foodstuff Industry Ltd.) အမည်ဖြင့် ဖက်စပ် ကုမ္ပဏီ တည်ထောင်၍ စစ်ကိုင်းတိုင်း ဒေသကြီး၊ စစ်ကိုင်းမြို့နယ်၊ ချောင်းပေါက်ကျေးရွာအနီးရှိ အမှတ်(၃) ဆေးဝါး စက်ရုံ (စစ်ကိုင်း) ၊ စစ်ကိုင်းမြို့နယ်ရှိ ရေခါး စခန်း၊ ဘုတလင်မြို့နယ်ရှိ တွင်းတောင်စခန်း၊ ကနီမြို့နယ်ရှိ တွင်းမစခန်း နှင့် တောင်ပျောက် စခန်း တို့၏ စုစုပေါင်း မြေဧရိယာ (၆၆၉.၄၃၂) ဧကတွင် ရေညှိရေမှော် ဆက်စပ်ပစ္စည်း အမျိုးမျိုး၊ ဆေးနှင့်ဆေးပစ္စည်းများ၊ အိမ်သုံးဆေးဝါး နှင့် အခြားလူသုံး ဆေးဝါး အမျိုးမျိုး၊ တိုင်းရင်းဆေးဝါး အမျိုးမျိုး၊ အလှကုန်၊ လူသုံးကုန်၊ အဖျော်ယမကာနှင့် စားသောက်ကုန် ပစ္စည်းအမျိုးမျိုး၊ တိရစ္ဆာန် အစားအစာနှင့် မြေသြဇာ ထုတ်လုပ်ခြင်းအတွက် ကုန်ကြမ်းအမျိုးမျိုး ထုတ်လုပ်ခြင်း၊ ဇီဝလောင်စာ အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်းများကို ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြချက်အား (၂၇-၂-၂၀၁၃)နေ့တွင် ကျင်းပသော မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၉/၂၀၁၃) အစည်း အဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။

၂။ အဆိုပါ ဆုံးဖြတ်ချက် အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသား များ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၅)၊ ပုဒ်မ ၁၀ အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Sagaing June Pharmaceutical and Foodstuff Industry Ltd. အား ရေညှိ ရေမှော် ဆက်စပ်ပစ္စည်းအမျိုးမျိုး၊ ဆေးနှင့်ဆေးပစ္စည်းများ၊ အိမ်သုံး ဆေးဝါးနှင့် အခြား လူသုံး ဆေးဝါး အမျိုးမျိုး၊ တိုင်းရင်းဆေးဝါး အမျိုးမျိုး၊ အလှကုန်၊ လူသုံးကုန်၊ အဖျော် ယမကာနှင့် စားသောက်ကုန် ပစ္စည်းအမျိုးမျိုး၊ တိရစ္ဆာန်အစားအစာနှင့် မြေသြဇာ ထုတ်လုပ်ခြင်း အတွက် ကုန်ကြမ်းအမျိုးမျိုး ထုတ်လုပ်ခြင်း၊ ဇီဝလောင်စာ အမျိုးမျိုး ထုတ်လုပ်ခြင်း လုပ်ငန်း ဆောင်ရွက် နိုင်ရန် အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ - ၈၉၁/၂၀၁၃ ကို ထုတ်ပေးလိုက်သည်။

၃။ Sagaing June Pharmaceutical and Foodstuff Industry Ltd. အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း(၇)၊ ပုဒ်မ ၁၂ အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၃)နှစ် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် ယင်းဥပဒေပုဒ်မ ၁၃ ပါ ပြဋ္ဌာန်းချက်

များ နှင့်အညီ အောက်ပါ အခွန်ကင်းလွတ်ခွင့် နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၁၃(က)အရ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှုတွင် ပါဝင်သော နိုင်ငံခြားငွေ ပမာဏအပေါ် မူတည်၍ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း နိုင်ငံခြားငွေဖြင့် ရင်းနှီးမြှုပ်နှံသည့် ပမာဏကို ဖော်ပြလျှက် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေပေါ် မူတည်၍ ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ ၁၃(ဂ) အရ ထုတ်လုပ်မှု လုပ်ငန်းကြောင့် သတ်မှတ်သည့် နှုန်းအထိ ပြည်တွင်း ဝင်ငွေတိုးတက်မှု ရှိပါက သတ်မှတ်ချက်နှင့်အညီ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန် အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့်ကာလ ကုန်ဆုံးပြီးသည့် အခါ လုပ်ငန်း အကောင်အထည်ဖော် ဆောင်ရွက်နိုင်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၁၃(စ) အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့်ရန်ပုံငွေ ထား၍ တစ်နှစ် အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျှက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၁၃(ဆ) အရ စက်ပစ္စည်း သို့မဟုတ် အခြားလုပ်ငန်းသုံး မတည်ပစ္စည်း များအပေါ် တန်ဖိုးလျှော့ငွေ ကို သတ်မှတ်သည့်နှုန်းအတိုင်း နှစ်တိုတို နှင့် မူလ တန်ဖိုး ပြည့်မီသည်အထိ အမြတ် ငွေမှ နှုတ်ပယ်ခွင့်နှင့် စပ်လျဥ်း၍ ယင်းတန်ဖိုး လျှော့နှုန်းထားများကို ဤကော်မရှင် သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၁၃(ဇ) အရ ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလအတွင်း ပြည်တွင်း၌ မရရှိနိုင်သည့် အမှန်တကယ် လိုအပ်၍ ပြည်ပမှ တင်သွင်းသော စက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာ အစိတ်အပိုင်း၊ လုပ်ငန်းသုံးမတည် ပစ္စည်းများ အပေါ် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

(စ) ဥပဒေပုဒ်မ ၁၃(ဈ)အရ သတ်မှတ်ထားသည့် ကနဦး ရင်းနှီးမြှုပ်နှံမှု ကာလကုန်ဆုံး၍ ပထမ (၃)နှစ် အတွက် ပြည်ပမှ တင်သွင်းသည့် ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန် နှင့် အခြားပြည်တွင်း အခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၃(ဇ) နှင့် (ဈ) အရ ပြည်ပမှ တင်သွင်းသည့် စက်ပစ္စည်းများ၊ စက်အရန် ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency) ၏ စစ်ဆေးမှုဖြင့် လိုက်နာဆောင်ရွက်ရမည်။

၅။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိ ဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၆။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ဤအဆိုပြုလုပ်ငန်း ၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၇။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေတို့နှင့်အညီ ဖက်စပ်ကုမ္ပဏီအား မှတ်ပုံတင်ပြီးသည့်အခါ အောက်ဖော်ပြပါ **စာရွက်စာတမ်း (၅)စောင်စီကို ဤကော်မရှင်သို့ မပျက်မကွက်** ပေးပို့တင်ပြရမည်-

(က) ကုမ္ပဏီမှတ်ပုံတင် လက်မှတ် (Certificate of Incorporation)

(ခ) ကုမ္ပဏီများညွှန်ကြားမှုဌာနက အတည်ပြုပြီးဖြစ်သည့် ကုမ္ပဏီ သင်းဖွဲ့မှတ်တမ်းနှင့် သင်းဖွဲ့စည်းမျဉ်းများ (Memorandum of Association and Articles of Association)

၈။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှု နှင့် စပ်လျဉ်း၍ နိုင်ငံတော်အစိုးရ မှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၉။ စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း (PFI) နှင့် ဇွန်ဆေးဝါး ထုတ်လုပ်ရေးလီမိတက် (June Pharmaceutical Ltd.) တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ အတည်ပြုပြီးဖြစ်သော ဖက်စပ်လုပ်ငန်း သဘောတူစာချုပ်ပါ စည်းမျဉ်း စည်းကမ်းအတိုင်း လိုက်နာဆောင်ရွက်ရမည်။ ဖက်စပ်လုပ်ငန်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုးပြီးသည့်အခါ ယင်းသဘောတူစာချုပ် မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၀။ ဖက်စပ်လုပ်ငန်း စာချုပ်သက်တမ်းကို စာချုပ် အသက်ဝင်သည့်နေ့မှစ၍ (၁၀)နှစ် သတ်မှတ်ပြီး သက်တမ်းမကုန်မီ (၁)နှစ်အလိုတွင် နှစ်ဘက် ညှိနှိုင်း၍ သက်တမ်းတိုး ဆောင်ရွက်နိုင်သည်။ စာချုပ်သက်တမ်း မကုန်မီရပ်စဲလိုပါက နှစ်ဘက်ညှိနှိုင်း၍ ဝန်ကြီးဌာန အတည်ပြုချက်ရယူပြီး စာချုပ်ရပ်စဲခြင်းကို ဆောင်ရွက်ရမည်။

၁၁။ ဖက်စပ်ကုမ္ပဏီ အတွက် ထည့်ဝင် ရင်းနှီးငွေကို စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန်လုပ်ငန်း(PFI) နှင့် ဇွန်ဆေးဝါး ထုတ်လုပ်ရေး လီမိတက် (June Pharmaceutical Ltd.) တို့က မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင် ၏ ခွင့်ပြုချက် ရရှိသည့်နေ့မှစ၍ တစ်နှစ် အတွင်းတွင် အပြည့်အဝ ထည့်ဝင်ရမည်။

၁၂။ အစုရှယ်ယာရှင်များသည် မိမိတို့၏ အစုရှယ်ယာများကို စာချုပ်ဝင် နှစ်ဦးမှလွဲ၍ အခြားမည်သည့်ပုဂ္ဂိုလ်ကိုမှ လွှဲပြောင်းရောင်းချခြင်း မပြုရ။

၁၃။ ဇွန်ဆေးဝါးထုတ်လုပ်ရေးလီမိတက် (June Pharmaceutical Ltd.) မှ ရှယ်ယာအချိုး တိုးမြှင့်လိုပါက နိုင်ငံတော် ၏ မူဝါဒများနှင့် အညီ စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ နှစ်ဦးနှစ်ဘက် ညှိနှိုင်းဆောင်ရွက်ရမည်။

၁၄။ Sagaing June Pharmaceutical and Foodstuff Industry Ltd.(ဖက်စပ်ကုမ္ပဏီ) ကို စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း (PFI) ဘက်မှ ဒါရိုက်တာ (၃)ဦး နှင့် ဇွန်ဆေးဝါး ထုတ်လုပ်ရေး လီမိတက် (June Pharmaceutical Ltd.) ဘက်မှ ဒါရိုက်တာ (၂)ဦးဖြင့် ဒါရိုက်တာအဖွဲ့ ဖွဲ့စည်း၍ စီမံခန့်ခွဲ အုပ်ချုပ်ရမည်။ စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း (PFI) ဘက်မှ ဥက္ကဋ္ဌ၊ ဘဏ္ဍာရေး နှင့် စီမံခန့်ခွဲရေး တာဝန်များယူ၍ ဇွန်ဆေးဝါး ထုတ်လုပ်ရေး လီမိတက် (June Pharmaceutical Ltd.) ဘက်မှ ဦးဆောင်ညွှန်ကြားရေးမှူး နှင့် စက်ရုံ လုပ်ငန်းဆိုင်ရာ Planning, Production & Operation, Marketing စသော တာဝန်များကို ယူရမည်။

၁၅။ Sagaing June Pharmaceutical and Foodstuff Industry Ltd.(ဖက်စပ်ကုမ္ပဏီ) သည် အမှတ်(၃)ဆေးဝါးစက်ရုံ (စစ်ကိုင်း)ရှိ စက်ရုံတွင် လက်ရှိအမှန်တကယ် တာဝန်ထမ်းဆောင်

နေသည့် ဝန်ထမ်းအားလုံးကို ဖက်စပ်ကုမ္ပဏီ၏ ဝန်ထမ်းအဖြစ် ဆက်လက် တာဝန်ပေးခန့်အပ်ရမည်။

၁၆။ ဖက်စပ်ကုမ္ပဏီသည် စက်ရုံဝန်ထမ်းများ၏ ပင်စင်အားပေးရန် မလိုသော်လည်း ပင်စင်ကြေးအား ပုံမှန်ထည့်ဝင်ပေးရမည်။ ဖက်စပ်ကုမ္ပဏီရှိ ဝန်ထမ်းများမှ နှစ်ပြည့်ပင်စင်၊ သက်ပြည့်ပင်စင်၊ လျော်ကြေးပင်စင် ခံစားလိုပါက လုပ်ငန်းမှ ဝန်ကြီးဌာနသို့ တင်ပြ၍ ခွင့်ပြုချက် ရရှိရေး ဆောင်ရွက်ပေးရမည်။

၁၇။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ခွင့်ပြုမိန့်ရ၍ ဖက်စပ်ကုမ္ပဏီ တည်ထောင်ပြီးသည်မှ (၆)လအတွင်း စက်မှုဝန်ကြီးဌာန၊ ဆေးဝါးနှင့် စားသောက်ကုန် လုပ်ငန်း (PFI)သည် မြေများ၊ စက်တပ်ယာဉ်များ၊ စက်ယန္တရားများ၊ စက်ပစ္စည်း စသည်တို့၏ ပိုင်ဆိုင်မှု အမည်များကို ဖက်စပ်ကုမ္ပဏီ အမည်သို့ လွှဲပြောင်းပေးရမည်။

၁၈။ Sagaing June Pharmaceutical and Foodstuff Industry Ltd. ၏ အစုရှယ်ယာရှင်များသည် ဖက်စပ်ကုမ္ပဏီမှ ဖြစ်ပေါ်လာမည့် အကျိုးအမြတ်များကို ၎င်းတို့အသီးသီး ပိုင်ဆိုင်သော အစုရှယ်ယာအချိုးအတိုင်း ခွဲဝေရမည်။

၁၉။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ထုတ်လုပ်မှု နည်းပညာ၊ ထုတ်လုပ်မှု အရည်အသွေး၊ Trade Mark ကုန်ပစ္စည်း အမှတ်တံဆိပ်အမည်၊ အမှတ်အသား၊ ဈေးကွက်ပိုင်းဆိုင်ရာ တို့နှင့် စပ်လျဉ်း၍ အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရမည်။ ၎င်းအပြင် သက်ဆိုင်ရာ ဌာနများ၏ ညွှန်ကြားချက်များအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၂၀။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာတွင် အမျိုးသား ဆေးဝါးဥပဒေ၊ အမျိုးသား အစားအသောက်ဥပဒေ၊ အလှကုန်ဆိုင်ရာ အမိန့်များကို လိုက်နာ ဆောင်ရွက်ရန်နှင့် ဆေးဝါး ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် ကမ္ဘာ့ကျန်းမာရေးအဖွဲ့၏ ကောင်းမွန်သော ဆေးဝါး ထုတ်လုပ်မှု ကျင့်စဉ်နှင့် ကိုက်ညီရမည်။

၂၁။ Sagaing June Pharmaceutical and Foodstuff Industry Ltd. မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင် နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာန နှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန်

အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင် သာယာရေးနှင့် စာရင်းဇယား စနစ်တကျ ရှိစေရေး အတွက် အဆိုပြုချက်တွင် တင်ပြထားသည့် အတိုင်း စီစဥ် ဆောင်ရွက်ရမည်။

၂၂။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ဤ ခွင့်ပြုမိန့် အရ ထုတ်လုပ်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ၊ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ်ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့် အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေ များ၊ ညွှန်ကြားချက်များ၊ လုပ်ထုံး လုပ်နည်းများနှင့် အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၃။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် အဆိုပြုချက်တွင် ဝန်ခံကတိ ပြုထားသည့်အတိုင်း ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/ တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိက စက်မှုလုပ်ငန်း မှတ်ပုံ တင်ထားရှိ ဆောင်ရွက်ရမည်။

၂၄။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် ပွဲတက်ပါ ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး(သုံး)လ အတွင်း ဤကော်မရှင် သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှု ပြုလုပ်သည့် နေရပ်ဒေသ လိပ်စာနှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်) တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၆။ Sagaing June Pharmaceutical and Foodstuff Industry Ltd. သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဥ်း စည်းကမ်း သတ်မှတ်ချက်များကို လိုက်နာမှုမရှိကြောင်း စစ်ဆေးတွေ့ရှိပါက ဤခွင့်ပြုမိန့် ကို ပြန်လည် ရုပ်သိမ်းသည်အထိ အရေးယူခြင်း ခံရမည်။

၂၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေး တွေ့ရှိလျှင် ပုဂ္ဂလိက စက်မှုလုပ်ငန်းမှတ်ပုံတင်ကို ပယ်ဖျက်ပြီး စက်ရုံ ပိတ်သိမ်းနိုင်ရေး အတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်း နှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၅(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်) နှစ် အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(စိုးသိန်း)
ဥက္ကဋ္ဌ

စာအမှတ်၊ရက- ၆(က) /မ- ၁၂၉၃/၂၀၁၃( ၃၄၀၆ )
ရက် စွဲ ၊ ၂၀၁၃ ခုနှစ် မတ် လ ၂၃ ရက်

**ဖြန့်ဝေခြင်း -**

သမ္မတဦးစီးရုံး
ဒုတိယသမ္မတ(၁)ဦးစီးရုံး
ဒုတိယသမ္မတ(၂)ဦးစီးရုံး
ပြည်ထောင်စုအစိုးရအဖွဲ့ရုံး
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ
ပြည်ထဲရေးဝန်ကြီးဌာန
စက်မှုဝန်ကြီးဌာန
ဆောက်လုပ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးနှင့် အခွန် ဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန

ဆက်သွယ်ရေး၊ သတင်းအချက်အလက်နှင့် နည်းပညာ ဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

လျှပ်စစ် စွမ်းအား ဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ကျန်းမာရေး ဝန်ကြီးဌာန

စစ်ကိုင်းတိုင်းဒေသကြီးအစိုးရအဖွဲ့၊ စစ်ကိုင်းမြို့

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆေးဝါးနှင့်စားသောက်ကုန်လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှု နှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသား မှတ်ပုံတင်ရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကျန်းမာရေးဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့် စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံစက်မှုကုန်ထုတ်လုပ်သူများအသင်း
အုပ်ချုပ်မှုဒါရိုက်တာ၊ Sagaing June Pharmaceutical and Foodstuff Industry Ltd